Cost Effectiveness Oriented Group Co., Ltd. မှ

ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၈-၆-၂၀၁၅ | - | (၉၀)ရက် |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ | ၉-၇-၂၀၁၅ | ၉-၉-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၉-၇-၂၀၁၅ | ၁၇-၈-၂၀၁၅ | |
| | (ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | ၉-၇-၂၀၁၅ | ၂၀-၇-၂၀၁၅ | |
| ၃။ | PAT (၂၃/၂၀၁၅)အစည်းအဝေး တင်ပြခြင်း | ၆-၇-၂၀၁၅ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂၃-၇-၂၀၁၅ | | |
| အဆိုပြုချက်အား လက်ခံရရှိသည်မှာ ရက်(၉၀) ပြည့်သော်လည်း အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြည့်စုံစွာ ပြင်ဆင်၍ တင်ပြလာနိုင်ခြင်းမရှိပါသဖြင့် (၁၅-၉-၂၀၁၅) နေ့တွင် ပြန်လည်ပေးပို့ခဲ့ပါသည်။ | | | | |
| ၁။ | ကုမ္ပဏီမှ အဆိုပြုလွှာ(၇)စုံ ပြင်ဆင်ပေးပို့ခြင်း | ၉-၁၁-၂၀၁၅ | | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်၍ တောင်ကြီးစည်ပင်သာယာရေးကော်မတီမှတစ်ဆင့်ပြန်လည်တင်ပြလာပါသည်။ |
| ၂။ | ကော်မရှင် အစည်းအဝေးအကြိမ်နှင့် ရက်စွဲ | ၁၃-၁၁-၂၀၁၅ (၂၀/၂၀၁၅) | | |
| ၃။ | **စုစုပေါင်းကြာမြင့်ရက်** | **(၅) ရက်** | | |

ကုမ္ပဏီအမည် - **Cost Effectiveness Oriented Group Co., Ltd.**
အဖွဲ့အစည်းပုံသဏ္ဍာန် - Private Company ဖြစ်ပါသည်။
လုပ်ငန်းအမျိုးအစား - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း
တည်နေရာ - တောင်ကြီးမြို့စည်ပင်သာယာရေးအဖွဲ့ပိုင်၊ ဦးပိုင်အမှတ် ($N_3$)၊ ကြေးတိုင်ပြင်၊ မြို့မ (၂) သစ်တောရပ်ကွက်၊ တောင်ကြီးမြို့နယ်၊ တောင်ကြီးခရိုင်၊ရှမ်းပြည်နယ် ရှိ မြေ (၁.၃၃)ဧက
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၉၃၂.၂၀ သန်း
လုပ်ငန်းသက်တမ်း - ကနဦး နှစ် (၅၀)
အရင်းကြေကာလ - ၈ နှစ် ၁ လ
IRR - ၈.၄၃ %

အထက်ပါ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဥ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၂၈ (၁) နှစ် | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃ | မြေငှားရမ်းခ | ၂၉.၅၀ | - |
| ၄ | ဝင်ငွေခွန် | ၄၀၁.၆၃ | ၁၉၀၉.၄၁ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၃၀၉.၀၇ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | ၃၀.၀၀ | ၆၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ၇.၈၃ |
| ၈ | CSR (၂%) | | ၈.၀၃ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း<br>**စုစုပေါင်း** | ၄၆၃.၄၁ | ပြည်တွင်းဝန်ထမ်း (၁၄၂)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်ပါသည်။<br>၂၂၉၅.၅၁ |
| | Cost : Benefit | ၁:၅ | |

## Cost Effectiveness Oriented Group Co., Ltd. မှ BOT စနစ်ဖြင့် ဆောင်ရွက်မည့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းနှင့် စပ်လျဉ်းသည့် အဓိကအချက်များ

၁။ ကုမ္ပဏီအမည်/ကမကထပြုသူ - Cost Effectiveness Oriented Group Co., Ltd.
ဦးမင်းဟန် (အဘ- ဦးကျော်ဒင်)

၂။ ဖွဲ့စည်းမှုပုံစံ - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်)

၃။ တည်နေရာ - တောင်ကြီးမြို့နယ် စည်ပင်သာယာရေး ကော်မတီပိုင် ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ တောင်ကြီးမြို့၊မြို့မ(၂) သစ်တောရပ်ကွက်၊ တောင်ကြီး-ဟိုပုံး လမ်းမဘေး၊ ကြေးတိုင်ပြင်၊ ဦးပိုင်အမှတ် ($N_3$)၊ မြေ(၁.၃၃) ဧက

၄။ အဆိုပြုလုပ်ငန်းအမျိုးအစား - BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု -

| | (ကျပ်သန်း) |
|---|---|
| ငွေသား | ၂၂၀.၀၀ |
| အဆောက်အဦတန်ဘိုး | ၆၁၂.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၁၀၀.၂၀ |
| **စုစုပေါင်း** | **၉၃၂.၂၀** |

၆။ စာချုပ်သက်တမ်း - ကနဦး(၅၀)နှစ်

၇။ တည်ဆောက်ရေးကာလ - ၆ လ

၈။ ဝန်ဆောင်နိုင်မှု (၆ နှစ်မြောက်) -

| စဉ် | အခန်းအမျိုးအစား | Occupancy Rate | အခန်းအရေအတွက် | ဝန်ဆောင်ခနှုန်း |
|---|---|---|---|---|
| | | (%) | (ခန်း) | ကျပ် |
| (က) | Standard | ၉၇ % | ၄၀ | ၄၆၀၀၀ |
| (ခ) | Suite | ၈၃ % | ၁၅ | ၇၆၀၀၀ |
| (ဂ) | Royal Suite | | ၁ | ၂၅၁၀၀၀ |
| | စုစုပေါင်း | | ၆၀ | |

၉။ ဝင်ငွေ (၆ နှစ်မြောက်) - ကျပ် ၁၆၇၃.၈၂ သန်း

၁၀။ ဝန်ထမ်းအင်အား ပြည်တွင်း - ၁၄၂ ဦး (တစ်လအတွက် အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၁၁။ အရင်းကြေကာလ - ၈ နှစ် နှင့် ၁ လ

၁၂။ အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) - ၈.၄၃ %

| | | |
|---|---|---|
| ၁၃။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | - ဝင်ငွေခွန် | - ကျပ် ၄၆.၄၉ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၈၃.၆၉ သန်း |
| ၁၄။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၅။ | လျှပ်စစ်ဓါတ်အား | - လျှပ်စစ်မီး အသုံးပြုမှု နှင့်စပ်လျဉ်း၍ နိုင်ငံတော် အစိုးရ၏ ပင်မဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အပြင် Generator 250 KVA ၂ လုံး ဝယ်ယူ၍ သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် မန်နေဂျင်းဒါရိုက်တာ ဦးမင်းဟန် အမည်ဖြင့် (၃၀-၆-၂၀၁၄) နေ့ရှိ လက်ကျန် ကျပ် ၂,၈၆၉,၃၈၁ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၇။ | (၇-၄-၂၀၁၅) ရက်နေ့တွင်ချုပ်ဆိုထားသည့် BOTစနစ်ဖြင့် မြေငှားစာချုပ်ပါ အဓိကအချက်များ | - လုပ်ငန်းဆောင်ရွက်မည့်မြေမှာ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးအဖွဲ့ပိုင် မြေဧရိယာ(၁.၃၃)ဧကကို BOT စနစ်ဖြင့် ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၁-(က))<br>- ဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းအတွက် အာမခံငွေ ကျပ်သိန်း (၅၀၀)အား စာချုပ်ချုပ်ဆိုသည့်နေ့တွင် ပေးသွင်းရမည်ဖြစ်ပြီး တည်ဆောက်ရေးလုပ်ငန်းများပြီးစီးသည့်အခါစည်းကမ်းများနှင့်ညီညွတ်ပါက ပြန်လည်ထုတ်ပေးရမည်ဖြစ်ပါသည်။ (စာချုပ် အပိုဒ် -၄) |
| ၁၈။ | (၉-၉-၂၀၁၅) ရက်နေ့တွင်ချုပ်ဆိုထားသည့် ပြင်ဆင်စာချုပ်ပါ အဓိကအချက်များ | - ဟိုတယ် တည်ဆောက်ရေးလုပ်ငန်းများနှင့် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ရန် ခွင့်ပြုသည့်စာချုပ်သက်တမ်းကာလ နှစ်(၅၀) ဖြစ်ပြီး သက်တမ်းကုန်ဆုံးပြီးနောက် (၁၀) နှစ် (၂) ကြိမ် သက်တမ်းတိုးမြှင့်ဆောင်ရွက်နိုင်သည်။ (စာချုပ်အပိုဒ်-၁)<br>- မြေငှားရမ်းခကို လုပ်ငန်းစတင်ချိန် မှစတင်၍(၃)နှစ် ကာလအတွင်း မြေငှားရမ်းခကို တစ်နှစ်လျှင် ကျပ် (၅၀) သိန်းဖြင့် လည်းကောင်း၊ (၃)နှစ်ပြည့်ပြီးနောက်တွင် တစ်နှစ်အတွက် မြေငှားရမ်းခကို တစ်စတုရန်းပေလျှင် (၂၅၀) ကျပ်နှုန်း ဖြင့် ငှားရမ်းသည့် မြေဧရိယာ (၁.၃၃)ဧက (၅၈၀၀၀ စ/ပေ) အတွက် ကျပ်သိန်း (၁၄၅)သိန်းကိုလည်းကောင်း ပေးသွင်းရမည်။ မြေငှားရမ်းခများကို ၂၀၁၆ ခုနှစ်မှစတင်၍ ဇန်နဝါရီလအတွင်းတွင် တစ်နှစ်စာကြိုတင်ပေးသွင်းရမည်။ (စာချုပ်အပိုဒ် -၂)<br>- ဟိုတယ်တည်ဆောက်ရေး လုပ်ငန်းကာလမှာ (၂) နှစ် (၁၀) လသတ်မှတ်ပြီး (၂၀-၁၂-၂၀၁၅) ရက်နေ့တွင် လုပ်ငန်းများ ပြီးစီးရမည်။ (စာချုပ်အပိုဒ်-၃)<br>- မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၁၂၀၀) ပေးသွင်းပြီးနောက်သတ်မှတ်သည့် နှစ်စဉ်မြေငှားရမ်းခကို ရရှိမည်။ ငှားရမ်းမှုသက်တမ်း ပြည့်မြောက်လျှင် (သို့မဟုတ်) စာချုပ်ရပ်စဲပါက |

| | | |
|---|---|---|
| | | - ဟိုတယ်နှင့် သက်ဆိုင်သော အဆောက်အဦများအားလုံး၊ ဟိုတယ်လုပ်ငန်းတို့ကို ပြန်လည်လွှဲပြောင်းလက်ခံရရှိမည်။ (စာချုပ် အပိုဒ် - ၄)<br>- ဤပြင်ဆင်ချက်စာချုပ်သည် (၉-၉-၂၀၁၅) ရက်နေ့မှ စတင်၍ အကျိုးသက်ရောက်စေရမည်။ (စာချုပ် အပိုဒ် - ၆)<br>- ဤပြင်ဆင်ချက်စာချုပ်ပါ စည်းကမ်းချက်များမှအပ ကျန်စည်းကမ်းချက်များမှာ မူလစာချုပ်ပါ အတိုင်း ပြောင်းလဲခြင်းမရှိ ဆက်လက်တည်မြဲ အကျိုးသက်ရောက်စေရမည်။ (စာချုပ် အပိုဒ် - ၉) |
| ၁၉။ | အခြားတင်ပြချက်များ | - ရှမ်းပြည်နယ် အစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက်အရ Cost Effectiveness Oriented Group Co., Ltd. နှင့် တောင်ကြီးမြို့နယ် စည်ပင် သာယာရေး ကော်မတီတို့ BOT စနစ်ဖြင့် (၇-၄-၂၀၁၅) နေ့တွင် ချုပ်ဆိုထားသည့် စာချုပ်ကို လည်းကောင်း၊ (၉-၉-၂၀၁၅)နေ့တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချုပ်ဆိုထားသည့် စာချုပ်ကို လည်းကောင်း တောင်ကြီးမြို့ စည်ပင်သာယာရေး ကော်မတီမှ တစ်ဆင့် (၃-၁၁-၂၀၁၅) နေ့တွင် တင်ပြထားပါသည်။ |
| ၂၀။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေ (၁.၃၃)ဧကမှာ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးအဖွဲ့မှ သစ်တောဂိတ် မော်တော်ယာဥ်လိုင်းမြေအဖြစ် အသုံးပြုရန်အတွက် ( ၃-၇-၂၀၀၀ ) နေ့မှ (၂-၇-၂၀၃၀) နေ့ထိ နှစ်(၃၀) သက်တမ်းရှိသော ဂရန် ရရှိထားကြောင်း တင်ပြထားသဖြင့် ဂရန်သက်တမ်းမှာ (၂-၇-၂၀၃၀)တွင် ကုန်ဆုံးမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် နှစ်ကြိမ်ဖြစ်ပြီး မြေဂရန်သက်တမ်းမှာ (၁၅) နှစ်သာ ကျန်ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ဟိုတယ်တည်ဆောက်မှုမှာ ၇၀ % ခန့် ပြီးစီးပြီဖြစ်ကြောင်းနှင့် ပြည်ပမှ လုပ်ငန်းသုံး ပစ္စည်းများနှင့် ဟိုတယ်သုံးပစ္စည်းများ တင်သွင်းခြင်း မရှိကြောင်း တွေ့ရှိရပါသည်။<br>- တောင်ကြီးစည်ပင်သာယာရေးကော်မတီ နှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသော စာချုပ်များမှာ စာချုပ်ဝင်များ လက်မှတ် ရေးထိုးထားပြီး BOT စနစ်ဖြင့် စာချုပ်ချုပ်ဆိုထားကြောင်း တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကာ-၄/မ- ၁၄၈၅/၂၀၁၅ (၈၉၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ ၂ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Cost Effectiveness Oriented Group Co., Ltd. မှ ရှမ်းပြည်နယ်၊ တောင်ကြီးမြို့တွင် BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ Cost Effectiveness Oriented Group Co., Ltd. မှ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊တောင်ကြီးမြို့နယ်၊ မြို့မ(၂)သစ်တောရပ်ကွက်၊ ကြေးတိုင်ပြင်၊ ဦးပိုင်အမှတ် ($N_3$)ရှိ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးဌာနပိုင် မြေ (၁.၃၃) ဧက ပေါ်တွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ (၅) ထပ်တိုက်၊ အခန်း (၆၀) ခန်းပါ အဆောက်အဦ ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးမင်းဟန် မှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် ဇူလိုင် လ ၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးကော်မတီ နှင့် Cost Effectiveness Oriented Group Co., Ltd.တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ(၉-၉-၂၀၁၅)ရက်နေ့တွင် ပြင်ဆင်ချုပ်ဆိုထားသည့် BOTစာချုပ်ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဟိုတယ် တည်ဆောက်ရေးလုပ်ငန်းများနှင့် ဟိုတယ်လုပ်ငန်းများ ဆောင်ရွက်ရန် ခွင့်ပြုသည့်စာချုပ်သက်တမ်းကာလ နှစ်(၅၀) ဖြစ် ပြီး သက်တမ်းကုန်ဆုံးပြီးနောက် (၁၀) နှစ် (၂) ကြိမ် သက်တမ်း တိုးမြှင့်ဆောင်ရွက်နိုင်သည်။ (စာချုပ်အပိုဒ်-၁)

(ခ) မြေငှားရမ်းခကို အဆောက်အဦများ ဆောက်လုပ်ပြီးစီးပြီးနောက် လုပ်ငန်းစတင်ချိန်မှစတင်၍(၃)နှစ် ကာလအတွင်း တစ်နှစ်လျှင် ကျပ် (၅၀) သိန်းဖြင့် လည်းကောင်း၊(၃)နှစ်ပြည့်ပြီးနောက်တွင် တစ်နှစ်အတွက်မြေငှားရမ်းခကို တစ်စတုရန်းပေလျှင် (၂၅၀) ကျပ်နှုန်းဖြင့် ငှားရမ်းသည့် မြေဧရိယာ (၁.၃၃) ဧက (၅၈၀၀၀ စတုရန်းပေ) အတွက် ကျပ် (၁၄၅) သိန်း ကိုလည်းကောင်း ပေးသွင်းရမည်။ မြေငှားရမ်းခများ ကို ၂၀၁၆ ခုနှစ်မှစတင်၍ နှစ်စဉ် ဇန်နဝါရီလအတွင်း တစ်နှစ်စာကြိုတင်ပေးသွင်းရမည်။ (စာချုပ်အပိုဒ် -၂)

(ဂ) ဟိုတယ်တည်ဆောက်ရေး လုပ်ငန်းကာလမှာ (၂) နှစ် (၁၀) လသတ်မှတ်ပြီး (၂၀-၁၂-၂၀၁၅) ရက်နေ့တွင် လုပ်ငန်းများ ပြီးစီး ရမည်။ (စာချုပ်အပိုဒ်-၃)

(ဃ) မြေအသုံးချမှု ပရီမီယံကြေး ကျပ်သိန်း (၁၂၀၀)ကို တည်ဆောက်ရေးလုပ်ငန်းများ ပြီးစီးချိန်တွင် ပေးသွင်းပြီးနောက် သတ်မှတ်သည့် နှစ်စဉ်မြေငှားရမ်းခကိုရရှိမည်။ ငှားရမ်းမှုသက်တမ်းပြည့်မြောက်လျှင်(သို့မဟုတ်) စာချုပ်ရပ်စဲပါက ဟိုတယ်နှင့် သက်ဆိုင်သော အဆောက်အဦများအားလုံး၊ ဟိုတယ်လုပ်ငန်းတို့ကို ပြန်လည်လွှဲပြောင်းလက်ခံရရှိမည်။ (စာချုပ် အပိုဒ် - ၄)

(င) ဤပြင်ဆင်ချက်စာချုပ်သည် (၉-၉-၂၀၁၅) ရက်နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။ (စာချုပ် အပိုဒ် - ၆)

(စ) ဤပြင်ဆင်ချက်စာချုပ်ပါ စည်းကမ်းချက်များမှအပ ကျန်စည်းကမ်းချက်များမှာ မူလစာချုပ်ပါအတိုင်း ပြောင်းလဲခြင်းမရှိ ဆက်လက်တည်မြဲ အကျိုးသက်ရောက်စေရမည်။ (စာချုပ် အပိုဒ် -၉)

၃။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၅၀)နှစ် နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ်ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ စုစုပေါင်း ကျပ် (၉၃၂.၂၀)သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေပမာဏ | ကျပ် | ၂၂၀.၀၀ သန်း |
| (ခ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်း | ကျပ် | ၁၀၀.၂၀ သန်း |
| (ဂ) | အဆောက်အဦ | ကျပ် | ၆၁၂.၀၀ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၉၃၂.၂၀ သန်း** |

၅။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း (၁၄၂)ဦးခန့်ထား မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ ပြည်တွင်းမှအနိမ့်ဆုံး ဝန်ထမ်း(၁)ဦး၏လစာမှာ တစ်လ လျှင် ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ တစ်လလျှင် ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြု ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ဟိုတယ်အခန်းများ ငှားရမ်းခြင်းမှ ဝင်ငွေရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ဝန်ဆောင်မှု ပေးမည့် အခန်း အရေအတွက် (ခန်း) | Occupancy Rate (%) | ဝန်ဆောင်ခနှုန်း |
|---|---|---|---|---|
| | | | ကျပ် | ကျပ် |
| (က) | Standard Room | ၄၁ | ၉၇ % | ၄၆၀၀၀ |
| (ခ) | Suite Room | ၁၈ | ၈၃ % | ၇၆၀၀၀ |
| (ဂ) | Royal Suite | ၁ | - | ၂၅၀၀၀၀ |
| | စုစုပေါင်း | ၆၀ | | |

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့်အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၁၂၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၆၇၃.၈၂ |
| (ခ) | အသုံးစရိတ် | ၁၄၈၇.၈၆ |
| | **အသားတင်အမြတ်** | **၁၈၅.၉၆** |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ်(၆နှစ်မြောက်)တွင်ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၈၃.၆၉ သန်း နှင့် ဝင်ငွေခွန် ကျပ် ၄၆.၄၉ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈)နှစ်နှင့်(၁)လဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၈.၄၃ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

**(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိပါကြောင်း။

(၂) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်နိုင်ပါကြောင်း။

(၃) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း။

(၄) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာမှန်ကန်မှု ရှိပါကြောင်း။

(၅) ဒေသခံများက လူမှုရေး၊ စီးပွားရေး၊သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ပါသဖြင့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ရှမ်းပြည်နယ်အစိုးရ အဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။

**(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာ ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် လစဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂ %) အား အသုံးပြုခြင်းတို့

အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan —EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

**(ကုမ္ပဏီမှအထက်ပါ သဘောထားမှတ်ချက်နှင့် အညီပတ်ဝန်းကျင် စီမံခန့်ခွဲမှုစီမံချက်( Environmental Management Plan - EMP) ရေးဆွဲရန် စီစဉ်နေပါကြောင်းတင်ပြထားပါသည်)**

**(ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) အဆိုပြုလွှာ၏ နောက်ဆက်တွဲ Room Income စာရင်းဇယား နှင့်ဝယ်ယူမည့် Hotel Equipment စာရင်းများအရ ပထမနှစ်တွင် အခန်း (၄၅) ခန်း ဖြင့် စတင်ဖွင့်လှစ်ရန် လျာထားတင်ပြထားသော်လည်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ (၁၇-၆-၂၀၁၅) ရက်နေ့တွင် တင်ပြသော အဆိုပြုလွှာ၌ (၅) ထပ်၊ (၁၆) ခန်းပါ အဆောက်အဦ ဆောက်လုပ်မည်ဟု တင်ပြပါရှိရာ ကွဲလွဲမှုရှိပါ၍ မှန်ကန်သည့် အခန်းအရေအတွက်ကိုထည့်ရန်။

**(ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားနှင့်အညီ မှန်ကန်သည့် အခန်းအရေအတွက်ကို ကုမ္ပဏီမှ တင်ပြထားပါသည်။)**

(၂) ဟိုတယ်အခန်းခနှင့် လျော်ညီသောဝန်ဆောင်မှုနှင့် Facilities များဖြည့်ဆည်းပေးရန်။

(၃) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေနှင့်အညီ ဟိုတယ်ဆောက်လုပ်ရန် ကြိုတင်ခွင့်ပြုမိန့်လျှောက်ထားခြင်း၊ ဆောက်လုပ်ပြီးစီးပါက လုပ်ငန်းလိုင်စင် လျှောက်ထားခြင်းများ ဆက်လက်ဆောင်ရွက်သွားရန်။

(ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။)

၁၀။ အဆိုပြုလုပ်ငန်းအတွက် မြန်မာကျပ်ငွေ အထောက်အထားအဖြစ် မြန်မာ့စီးပွားရေးဘဏ်တွင် မန်နေဂျင်းဒါရိုက်တာဦးမင်းဟန် အမည်ဖြင့် (၃၀-၆-၂၀၁၄) နေ့ရှိ လက်ကျန်ကျပ် ၂,၈၆၉,၃၈၁ ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းမည့်စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊ မီးဘေးကာကွယ်ထားရှိမှု အစီအမံများ ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဥ်၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဥ်များနှင့် CSR အဖြစ် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်းကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအတွက် မဟာဓါတ်အားလိုင်းမှရယူသုံးစွဲမည့်အပြင် ကိုယ်ပိုင်ဂျင်နရေတာဖြင့်လည်း အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဇ) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောတူ ခွင့်ပြုချက်အရ Cost Effectiveness Oriented Group Co., Ltd. နှင့် တောင်ကြီးမြို့နယ် စည်ပင်သာယာရေးကော်မတီတို့ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် BOT စနစ်ဖြင့် (၇-၄-၂၀၁၅)နေ့တွင် ချုပ်ဆိုထားသည့် စာချုပ်ကိုလည်းကောင်း၊ (၉-၉-၂၀၁၅)နေ့တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချုပ်ဆိုထားသည့် စာချုပ်ကိုလည်းကောင်း ရှမ်းပြည်နယ်စည်ပင် သာယာရေး ကော်မတီမှ တစ်ဆင့် (၃-၁၁-၂၀၁၅) နေ့တွင် တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေ (၁.၃၃)ဧကမှာ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးအဖွဲ့မှ သစ်တောဂိတ် မော်တော်ယာဥ်လိုင်းမြေအဖြစ် အသုံးပြုရန်အတွက် (၃-၇-၂၀၀၀)နေ့မှ(၂-၇-၂၀၃၀) နေ့ထိ နှစ်(၃၀) သက်တမ်းရှိသော ဂရန်ရရှိထားကြောင်းတင်ပြထားသဖြင့် ဂရန်သက်တမ်းမှာ (၂-၇-၂၀၃၀)နေ့တွင် ကုန်ဆုံးမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၅၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ်နှစ်ကြိမ်ဖြစ်ပြီး မြေဂရန်သက်တမ်းမှာ (၁၅) နှစ်သာကျန်ရှိကြောင်း စိစစ် တွေ့ရှိရပါသည်။

(ဃ) ဟိုတယ်တည်ဆောက်မှုမှာ ၇၀%ခန့် ပြီးစီးပြီဖြစ်ကြောင်းနှင့် ပြည်ပမှ လုပ်ငန်းသုံး ပစ္စည်းများနှင့် ဟိုတယ်သုံးပစ္စည်းများ တင်သွင်းခြင်းမရှိကြောင်းတွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Cost Effectiveness Oriented Group Co., Ltd. မှ ၊ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ တောင်ကြီးမြို့နယ်၊ မြို့မ(၂)သစ်တောရပ်ကွက်၊ ကြေးတိုင်ပြင်၊ ဦးပိုင်အမှတ် ($N_3$)ရှိ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးဌာနပိုင် မြေ (၁.၃၃) ဧက ပေါ်တွင် မြေငှားရမ်း၍ (၅) ထပ်တိုက်၊ အခန်း (၆၀) ခန်းပါ အဆောက်အဦ ဆောက်လုပ်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် သဘောတူ - မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို -
ရုံးလက်ခံ။

နောက်ဆက်တွဲ-က




M3-864
8/9

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**ရှမ်းပြည်နယ်**

စာအမှတ်၊(၂၀၆၇၁)/၇ - ၂၁၆ / အစရ( ရှမ်း)
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၇-၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက-၄/မ-၁၄၈၅/၂၀၁၅(၅၀၁)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄-၈-၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက-၄/မ-၁၄၈၅/၂၀၁၅(၅၇၅)

၁။ Cost Effectiveness Oriented Group Co;Ltdမှ တောင်ကြီးမြို့နယ်စည်ပင်သာယာရေးဌာနပိုင် ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ တောင်ကြီးမြို့ သစ်တောရပ်ကွက်၊ တောင်ကြီး-ဟိုပုန်းကားလမ်းမဘေး၊ ကြေးတိုင်ပြင်၊ ဦးပိုင်အမှတ်(N3)၊ မြေဧရိယာ(၁.၃၃)ဧကတွင်BOTစနစ်ဖြင့်ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့်ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာများဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။
(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။
(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများကလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။
(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/မဟုတ်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ (က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကိုထိခိုက်မှုမရှိပါကြောင်း၊ (ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက်အထောက်အကူဖြစ်နိုင်ပါကြောင်း၊ (ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ (ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာမှန်ကန်မှုရှိပါကြောင်း (ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ တောင်ကြီးမြို့၏ (၂၇.၈.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၅/၇၃-၁(၃၀၂)/ဦး၆ဖြင့် တင်ပြလာပါသည်။)

၃။ သို့ဖြစ်ပါ၍ Cost Effectiveness Oriented Group Co;Ltdမှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား BOTစနစ်ဖြင့်ငှားရမ်းပြီး မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားမှုနှင့်ပတ်သက်၍ (ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံ

နိုင်ခြင်းရှိပါသဖြင့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပေးပို့အပ်ပါသည်။

၁၂၊၉၊၂၀၁၇

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(အောင်ကျော်ညွန့်၊ စီမံကိန်းနှင့်စီးပွားရေးဝန်ကြီး)

မိတ္တူကို

ရှမ်းပြည်နယ်ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ တောင်ကြီးမြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ တောင်ကြီးမြို့
ရုံးလက်ခံ
မျှောစာတွဲ

၈/၂၂၆၃

နောက်ဆက်တွဲ-ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF - 3710
19-8-15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၁၈၄၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3-748
14/8

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉ - ၇ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၄ / မ - ၁၄၈၅ / ၂၀၁၅ ( ၅၀၃ )

၁။ Cost Effectiveness Oriented Group Co., Ltd. မှ တောင်ကြီးမြို့နယ်၊ စည်ပင်သာယာရေးဌာနပိုင် ရှမ်းပြည်နယ်၊ တောင်ကြီးမြို့၊ သစ်တောရပ်ကွက်၊ တောင်ကြီး - ဟိုပုံးကားလမ်းမဘေး၊ ကြေးတိုင်ပြင်၊ ဦးပိုင်အမှတ် ( N3 )၊ မြေဧရိယာ ( ၁.၃၃ ) ဧကကို BOT စနစ်ဖြင့် ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စ နှင့် ပတ်သက်၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား စိစစ်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကြောင့် ရေထုညစ်ညမ်းမှု၊ မြေထုညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်းနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူလူထု၏ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်းများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ မည်သူမဆို သစ်တောနယ်မြေ နှင့် သစ်တောဖုံးလွှမ်းလျှက်ရှိသော အစိုးရက စီမံခန့်ခွဲရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း (သို့မဟုတ်) စီးပွားရေး၊ စီမံကိန်းလုပ်ငန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်ဟု သစ်တောဥပဒေ ပုဒ်မ ၁၂(က)အရ ပြဋ္ဌာန်းထားပါသဖြင့် အဆိုပြု မြေနေရာတွင် သစ်ပင်သစ်တောပေါက်ရောက်ဖုံးလွှမ်းမှု ရှိပါက ဥပဒေ နှင့် အညီ လိုက်နာဆောင်ရွက်ခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းတို့နှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Cost Effectiveness Oriented Group Co., Ltd. မှ BOT စနစ်ဖြင့် ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း နှင့် ပတ်သက်၍ တစ်ဖက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR) အတွက် လစဉ်ရရှိလာမည့် အမြတ်ငွေ၏(၂%)အား အသုံး ပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်များ ၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ် ၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) များ ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ ဟိုတယ် နှင့် ခရီးသွားလာရေးဥပဒေ ၊ နည်းဥပဒေများ၊ ညွှန်ကြားချက်များ ၊ လုပ်ထုံးလုပ်နည်းများ နှင့် အညီ လိုက်နာ ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့ နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

၁၁၊၈၊၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ-ဂ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု) /နပတ/ ၂၃၀၁
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁၄ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉-၇-၂၀၁၅)ရက်စွဲပါ၊စာအမှတ်၊ရက-၄/မ-၁၄၈၅/၂၀၁၅(၅၀၂)

၁။ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာသော ဟိုတယ်စီမံကိန်းမှာ တောင်ကြီးမြို့နယ် စည်ပင်သာယာရေးအဖွဲ့ပိုင်သော မြေဧရိယာ(၁.၃၃)ဧကကိုပုဂ္ဂလိကCost Effectiveness Oriented Group Co;Ltd က B.O.T စနစ်ဖြင့် နှစ်(၃၀)ငှားရမ်း၍ အထပ်(၅)ထပ်၊အခန်း(၄၅)ခန်းပါ ဟိုတယ်ကို ဆောက်လုပ်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခြင်းဖြစ်ကြောင်းတွေ့ရှိရပါသည်။

၂။ မြေကိုငှားရမ်းဆောင်ရွက်ခြင်း သဘောတူစာချုပ်အား (၂၀-၂-၂၀၁၃)ရက်နေ့တွင်လည်းကောင်း ပြင်ဆင်သည့်စာချုပ်အား (၇-၄-၂၀၁၅)ရက်နေ့တွင်လည်းကောင်း ရှမ်းပြည်နယ်စည်ပင်သာယာရေးအဖွဲ့နှင့် Cost Effectiveness Oriented Group Co;Ltd တို့လက်မှတ်ရေးထိုးခဲ့ပြီးဖြစ်ကြောင်းတွေ့ရှိ ရပါသည်။

၃။ သို့ဖြစ်ပါ၍ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာ၏ နောက်ဆက်တွဲ Room Income စာရင်းဇယားနှင့်ဝယ်ယူမည့် Hotel Equipment စာရင်းများအရ ပထမနှစ်တွင် အခန်း(၄၅)ခန်းဖြင့် စတင်ဖွင့်လှစ်ရန် လျာထားတင်ပြထားသော်လည်း (၁၇-၆-၂၀၁၅) ရက်နေ့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသောအဆိုပြုလွှာ၌ (၅)ထပ်၊ (၁၆)ခန်းပါ အဆောက်အဦ ဆောက်လုပ်မည်ဟု တင်ပြပါရှိရာ ကွဲလွဲမှုရှိပါ၍ မှန်ကန်သည့် အခန်းအရေအတွက်ကို ထည့်သွင်းပါ သည်။

C3,Htet Htet,Hotel Ec Service Letter147

(ခ) တောင်ကြီး၊ ပင်းတယ၊ ကလောဒေသသည် အင်းလေးဒေသသို့ လာရောက်လည်ပတ်သော နိုင်ငံခြားသားခရီးသည်များနှင့်မီးပုံးပျံပွဲ၊ သင်္ကြန်ပွဲ၊ဖောင်တော်ဦးဘုရားပွဲကာလများ၌နိုင်ငံအနှံ့မှလာရောက်သောပြည်တွင်းခရီးသည်များ များပြားစွာလာရောက်လေ့ရှိရာ သစ်တောဧရိယာ၊ ထိန်းသိမ်းဧရိယာများနှင့် ကင်းလွတ်သောနေရာများ၌ဟိုတယ်တိုးချဲ့ တည်ဆောက်ခြင်းသည် ပိုမိုဖွံ့ဖြိုးလာသောဒေသ၏ခရီးသွားလုပ်ငန်းအတွက် အထောက်အကူပြုမည် ဖြစ်ခြင်းနှင့် ယခုဟိုတယ်မှာလည်း တည်ဆောက်မှု (၇၅%) ခန့်ပြီးစီးပြီ ဖြစ်ခြင်းကြောင့် ယခုအဆိုပြုချက်အပေါ်တွင် အထူးသဘောထားမှတ်ချက် ပြုရန်မရှိပါ ။

(ဂ) အခန်းခနှုန်းထားတွက်ချက်မှုမှာ Standard အမျိုးအစား (၁)ခန်းလျှင် ၄၅၀၀၀ ကျပ်(US$၄၅ခန့်)နှင့်Suiteအမျိုးအစား(၁)ခန်းလျှင်၇၅၀၀၀ကျပ် (US$ ၇၅ခန့်) လျာထားတင်ပြထားရာ ဒေသအခြေအနေအရ ဆီလျော်မှုရှိသော နှုန်းထားများဖြစ်ပြီး၊ ဟိုတယ်အခန်းခနှင့် လျော်ညီသော ဝန်ဆောင်မှုနှင့် Facilities များ ဖြည့်ဆည်းပေးရန် လိုအပ်ပါမည်။

(ဃ) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါကမြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေး ဥပဒေနှင့်အညီ ဟိုတယ်ဆောက်လုပ်ရန် ကြိုတင်ခွင့်ပြုမိန့် လျှောက်ထားခြင်း၊ ဆောက်လုပ်ပြီးစီးပါကလုပ်ငန်းလိုင်စင် လျှောက်ထားခြင်းများ ဆက်လက်ဆောင်ရွက်သွားရန် လိုအပ်ပါကြောင်းကိုလည်း တင်ပြအပ်ပါသည်။

၁၅.၅.၂၀၁၅

(ဦးဌေးအောင်)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ/မျှော

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
အဆိုပြုချက်

# တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု
# ကုမ္ပဏီ လီမိတက်

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN
THE REPUPLIC OF THE UNION OF MYANMAR

**COST EFFECTIVENESS ORIENTED GROUP**
**COMPANY LIMITED.**
**(ROYAL TAUNG GYI HOTEL)**

# " မာတိကာ "


# COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED

No.A/ 8, Kabar Aye Villa,Kabaraye Pagoda Road, Mayangone Township, Yangon.
Phone; 01 655971, e-mail; ceogroup.ygn@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၅ခုနှစ်၊နိုဝင်ဘာလ၊(၉)ရက်။

အကြောင်းအရာ။ ။ " တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက် " (COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED.)၏ ဟိုတယ် တည်ဆောက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက်တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ " တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက် " (COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED.)သည် ရှမ်းပြည်နယ်၊တောင်ကြီးမြို့၊သစ်တောရပ်ကွက်၊တောင်ကြီး-ဟိုပုံးကားလမ်းမကြီးဘေး၊ကြေးတိုင်ပြင်၊ဦးပိုင်အမှတ်(N3)တွင် ၅ထပ်တိုက်၊(၆၀)ခန်းပါအဆောက်အဦးဆောက်လုပ်၍ ဟိုတယ်ဖွင့်လှစ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကိုလျှောက်ထားအပ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(၁) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းသည် နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင့် ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(၂) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။



**COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED**

No.A/ 8, Kabar Aye Villa,Kabaraye Pagoda Road, Mayangone Township, Yangon.
Phone; 01 655971, e-mail; ceogroup.ygn@gmail.com

---

Date ..................................

(၄) ထို့အပြင်ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၏နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(၅) မီးဘေးကြိုတင်ကာကွယ်မှုအတွက် အစီအမံများ ပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(၆) "တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက်"(COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED.) အနေဖြင့် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေအရ ထုတ်ပြန်ထားသော မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေမှ ပြဋ္ဌာန်းထားချက်များကို လိုက်နာသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့် –

ဦးမင်းဟန်
မန်နေဂျင်းဒါရိုက်တာ
COST EFFECTIVENESS ORIENED GROUP CO., LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။ ၂၀၁၅ခုနှစ်၊ဇွန်လ၊ (၁၇)ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ(၂၀)တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့်ကျွန်တော်တို့၏ "တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စုကုမ္ပဏီလီမိတက်"( COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED.)သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရှမ်းပြည်နယ်၊တောင်ကြီးမြို့၊သစ်တောရပ်ကွက်၊ တောင်ကြီး-ဟိုပုံးကားလမ်းမကြီးဘေး၊ကြေးတိုင်ပြင်၊ဦးပိုင်အမှတ်(N3)တွင် ၅ထပ်တိုက်၊(၁၆)ခန်းအဆောက်အဦး ဆောက်လုပ်၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကိုလျှောက်ထားအပ်ပါသည်။ ယခုအခါ ပြည်ပမှ ခရီးသွားလာမှုများပြားလျက်ရှိရာဟိုတယ်များစွာလိုအပ်လျက်ရှိပါသည်။ ကျွန်တော်များဟိုတယ်အနေဖြင့် ပြည်တွင်း၊ပြည်ပ ဧည့်သည်တော်များအားလုံးကို တည်းခိုခွင့်ပြုမည်ဖြစ်ပါသဖြင့် နိုင်ငံခြားဝင်ငွေများလည်း တိုးတက်ရရှိမည်ဖြစ်ပြီး ဟိုတယ်လိုအပ်ချက်များကိုလည်း အထောက်အကူ ဖြစ်စေပါသည်။



# COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED

No.A/ 8, Kabar Aye Villa,Kabaraye Pagoda Road, Mayangone Township, Yangon.
Phone; 01 655971, e-mail; ceogroup.ygn@gmail.com

Date ..................................

၂။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း အကျိုးဖြစ်ထွန်းစေပါသည်။သို့ဖြစ်ပါ၍ ကျွန်တော်များ၏ လျှောက်ထားခြင်းကိုလက်ခံ စဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ပုဒ်မ (၂၀) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်တို့ကိုလည်းခံစားခွင့်ပြုပါရန်လျှောက်ထားအပ်ပါသည်။

၃။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။
(၂) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍တွက်ချက်မှုဇယားများ။
(၃) လုပ်ငန်းပိုင်းနှင့်ငွေကြေး အထောက်အထားများ။
(၄) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း။

လေးစားစွာဖြင့်-

ဦးမင်းဟန်
မန်နေဂျင်း ဒါရိုက်တာ
“ တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက်”



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံသူ၏

# အဆိုပြုချက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

နေ့စွဲ။ ။၂၀၁၅ခုနှစ်၊ဇွန်လ၊(၁၈)ရက်။

ကျွန်တော်/ ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် ........ ဦးမင်းဟန် ........

(ခ) အဖအမည် ........ ဦးကျော်ခင် ........

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂/လမန(နိုင်) ၀၁၂၈၃၆ ........

(ဃ) နေရပ်လိပ်စာ ........ အမှတ်(၄၇/အေ)၊သုမင်္ဂလာလမ်း၊(၄)ရပ်ကွက်၊တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ........

........

........

(င) လူမျိုး၊ဘာသာ ........ မြန်မာ၊ဗုဒ္ဓဘာသာ။ ........

(စ) အဖွဲ့အစည်းအမည် ........ တန်တိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက် ........

(ဆ) လုပ်ငန်း အမျိုးအစား ........ ဆောက်လုပ်ရေးလုပ်ငန်း ........

(ဇ) အဖွဲ့အစည်း တည်ရှိရာအရပ် ........ အမှတ်(အေ/၈)၊ကမ္ဘာအေးရိပ်သာ၊မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ........

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ ........

(က) အမည် (၁) ........ (၂) ........

........ ........

(ခ) အဖအမည် (၁) ........ (၂) ........

........ ........

(ဂ) လူမျိုး၊ဘာသာ (၁) ........ (၂) ........

(ဃ) နေရပ်လိပ်စာ (၁)................... (၂) ...................

...................  ...................

...................  ...................

(င) လူမျိုး၊ဘာသာ (၁)................... (၂) ...................

...................  ...................

...................  ...................

(စ) အဖွဲ့အစည်းအမည် ...................

(ဆ) လုပ်ငန်းအမျိုးအစား ...................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ...................

...................

...................

(နှစ်ဦးသို့မဟုတ် အဖွဲ့အစည်း၂ခု ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း ...................

(ခ) ဝန်ဆောင်မှု လုပ်ငန်း ဟိုတယ် ...................

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

အစုစပ်လုပ်ကိုင်ခြင်း ...................

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

...................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

...................

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန် –

(က) တစ်ဦးတည်းပိုင် ...................

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း...................

(ဂ) လီမိတက် ကုမ္ပဏီ ကုမ္ပဏီလီမိတက် ...................

(ဃ) သမဝါယမအသင်း ...................

(အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအမျိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

၅၀% + ၅၀% = သန်း ၆၃၂.၂၀

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား ထည့်ဝင်ရှယ်ယာအမျိုးအတိုင်း

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ

ပူးတွဲ

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက –

(က) ခွင့်ပြု မတည်ငွေရင်း ၅၀၀,၀၀၀,၀၀၀/–

(ခ) အစုရှယ်ယာ အမျိုးအစား သာမန်အစုရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ၅,၀၀၀,၀၀၀/–

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ (ကျပ်သန်း)

(၁) ငွေပမာဏ ၂၂၀.၀၀

(နိုင်ငံခြား မတည်ငွေ ပါဝင်ပါက သီးခြားဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၃) အဆောက်အအုံများ/မြေ ၆၁၂.၀၀

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ

တန်ဖိုးပမာဏ ၁၀၀.၂၀

(၅) ကုန်ကြမ်း ပစ္စည်း တန်ဖိုးပမာဏ

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) စုစုပေါင်း ၆၃၂.၂၀

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့် ကျပ်(သန်း) အမေရိကန်ဒေါ်လာ(၀၀၀)

(၁) စက်ပစ္စည်းများ၊စက်ကိရိယာများ

စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ

(အသေးစိတ်စာရင်းပူးတွဲတင်ပြရန်)

(၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား

အလားတူပစ္စည်းများ၏ တန်ဖိုး

(အသေးစိတ်စာရင်းပူးတွဲတင်ပြရန်)

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏

တန်ဖိုးပမဏ

(ဂ) တည်ဆောက်မှုကာလ ............................ (၆)လ ..........

(ဃ) ပထမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ ..............................

(င) တည်ဆောက်မှု စတင်မည့်အချိန် ..................... ၇၅% ..........

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်လက်များ-

(က) လုပ်ငန်းအမျိုးအစား ............................ ဟိုတယ်ဝန်ဆောင်မှု ..........

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှု စသည့်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ ဦးဗိုင်အမှတ်(N3)၊ကြေးတိုင်ပြင်၊တောင်ကြီး-ဟိုပုံး

ကားလမ်းမကြီးဘေး၊သစ်တောရပ်ကွက်၊တောင်ကြီးမြို့၊ရှမ်းပြည်နယ်(တောင်ပိုင်း)။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် ..............................................

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | | |
|---|---|---|
| | အမျိုးအစား | အရေအတွက် |
| ၁။ | ဒီဇယ်ဆီ | ၄၅၀၀ ဂါလံ |
| ၂။ | ဓါတ်ဆီ | ၃၆၀၀ ဂါလံ |
| ၃။ | | |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလို့အပ်ချက်-

| | | |
|---|---|---|
| | အားအသုံးပြုမှု | မြင်းကောင်ရေ |
| ၁။ | လျှပ်စစ်ဓာတ်အား | ၅၀၀,၀၀၀ KWH |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ၃၆၀ KVA |
| ၃။ | ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အား | |
| ၄။ | သဘာဝဓာတ်ငွေ့ သုံးစက်အား | |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအားစသည့်များ) | |

(စ) နှစ်စဉ် ရေလိုအပ်ချက် ............................ ၁၅၀,၀၀၀ ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ် လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| ၁။ | အဓိက ကုန်ကြမ်း... | ............... | ............ | ............ |
| | (၁) ........... | ............... | ............ | ............ |
| | (၂) | | | |

၂။ အထောက်အကူ ကုန်ကြမ်း

(၁) .......... .......... .......... ..........

(၂) .......... .......... .......... ..........

၃။ စက်သုံးဆီ/ဓာတ်ငွေ့များ– (ကျပ်သန်း)

(၁) .......... .......... .......... ..........

(၂) .......... .......... .......... ..........

(ဈ) အဆောက်အအုံ လိုအပ်ချက်

(ဉ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက်

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး(ကျပ်ထောင်) |
|---|---|---|---|
| .......... | .......... | .......... | .......... |
| .......... | .......... | .......... | .......... |
| .......... | .......... | .......... | .......... |
| .......... | .......... | .......... | .......... |

(ဋ) ရောင်းချမည့်နည်းစနစ်

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ

| | ခန့်မှန်းခြေ<br>ကျပ်ငွေ (၀၀၀) | နိုင်ငံခြားငွေUS$(၀၀၀) |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ | ၇၈၃,၃၀၇ | .......... |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | | .......... |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံး ငွေပမာဏ | | .......... |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | .......... | .......... |
| (င) နှစ်စဉ် ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | ၈၁၀,၄၁၆ | .......... |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများ စာရင်း–

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ–

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ပူးတွဲ-၂ | .......... |
| .......... | .......... |
| .......... | .......... |
| .......... | .......... |
| .......... | .......... |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ –

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| ..................... | ............. | ..................... |
| ..................... | ............. | ..................... |
| ..................... | ............. | ..................... |
| ..................... | ............. | ..................... |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ –

| | | ကျပ်(၀၀၀) | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေရရှိမှု | ပူးတွဲ–၅ | .............. |
| (ခ) | နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | ပူးတွဲ–၅ | .............. |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | ပူးတွဲ–၅ | .............. |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | ပူးတွဲ–၅ | .............. |
| (င) | အရင်းကျေကာလ | (၅)နှစ်နှင့်(၁)လ | .............. |
| (စ) | အခြားအကျိုးအမြတ်များ | .............. | .............. |

(ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ ..............................................

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ ထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း(လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်းမရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ် ၊ ..............................

အမည် ၊ ဦးမင်းဟန်

ရာထူး ၊ မန်နေဂျင်း ဒါရိုက်တာ

(လျှောက်ထားသူ)



# COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED

No.A/ 8, Kabar Aye Villa,Kabaraye Pagoda Road, Mayangone Township, Yangon.
Phone; 01 655971, e-mail; ceogroup.ygn@gmail.com

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၅ခုနှစ်၊ဇွန်လ၊( ၁၈ )ရက်။

အကြောင်းအရာ။ ။<u>ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန်ဆောင်ရွက် ထားမှုအခြေအနေတင်ပြခြင်း။</u>

ကျွန်တော်တို့ "Cost Effectiveness Oriented Group Co., Ltd." အနေဖြင့် လုပ်ငန်းကိုဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်ဟိုတယ်အတွင်းသန့်စင်ခန်းများထားရှိခြင်း၊ရေအလုံအလောက်အသုံးပြုစေခြင်း၊အမှိုက်စွန့်ပစ်ရန်နေရာများထားရှိခြင်း၊ဟိုတယ်ပတ်ဝန်းကျင်အားသန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ရေနှုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

ကျွန်တော်တို့၏ ဟိုတယ်သည် ဝန်ဆောင်မှု လုပ်ငန်းဖြစ်သဖြင့် ပတ်ဝန်းကျင်ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုလည်းဖြစ်ပေါ်မည်မဟုတ်ပါ၊ စွန့်ပစ်ပစ္စည်းများစနစ်တကျစွန့်ပစ်ခြင်းနှင့်ဟိုတယ်အတွင်းမှထွက်ရှိလာသော အမှိုက်များကိုလည်းစနစ်တကျစွန့်ပစ်ပါမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့် –

ဦးမင်းဟန်
မန်နေဂျင်း ဒါရိုက်တာ
တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက်



# COST EFFECTIVENESS ORIENTED GROUP COMPANY LIMITED

No.A/ 8, Kabar Aye Villa,Kabaraye Pagoda Road, Mayangone Township, Yangon.
Phone; 01 655971, e-mail; ceogroup.ygn@gmail.com

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၅ခုနှစ်၊ဇွန်လ၊( ၁၈ )ရက်။

အကြောင်းအရာ။ ။**အလုပ်သမားများအတွက် စီမံထားရှိမှု။**

ကျွန်တော်တို့၏ " Cost Effectiveness Oriented Group Co., Ltd. " အနေဖြင့်ဝန်ထမ်းများ၊အလုပ်သမားများအတွက် အောက်ပါအတိုင်း စီမံမှုများပြုလုပ်ထားရှိပါသည်။

(၁) အလုပ်သမားများအတွက် လူမှုဖူလုံရေးကြေးသွင်းပေးခြင်း။
(၂) ဆေးကုသရန်အတွက် အခမဲ့ဆေးခန်းထားရှိပေးခြင်း။
(၃) အလုပ်သမားများနားနေခန်းထားရှိပေးခြင်း။
(၄) အလုပ်သမားများ ထမင်းစားရန်အတွက် ထမင်းစားဆောင်ထားရှိပေးခြင်း။
(၅) အလုပ်သမားများ ဗဟုသုတ ကြွယ်ဝစေရန် စာကြည့်တိုက်ထားရှိပေးခြင်း။
(၆) သက်သာချောင်ချိရေး ထမင်းဆိုင်ထားရှိ၍ အကျိုးအမြတ်မယူပဲ ထမင်း၊ဟင်းရောင်းချပေးခြင်း အပြင် အချို့သော အရုံဟင်းများကို အခမဲ့ကျွေးမွေးခြင်း။
(၇) အလုပ်သမားများအားလပ်ချိန်တွင် အားကစားလှုပ်ရှားမှု လုပ်ကိုင်နိုင်ရန်အတွက်အားကစားကွင်း တည်ဆောက်ပေးထားခြင်းတို့ကို ပြုလုပ်ဆောင်ရွက်ပေးသွားမည် ဖြစ်ပါသည်။

လေးစားစွာဖြင့် -

ဦးမင်းဟန်
မန်နေဂျင်း ဒါရိုက်တာ
တန်ဘိုးသက်ရောက်မှု ဦးတည်ရေးအုပ်စု ကုမ္ပဏီလီမိတက်

